ကုမ္ပဏီအမည် - Asia Hline Kyaw Family Co.,Ltd.
လုပ်ငန်း - ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၆-၁၂-၂၀၁၆ | | |
| ၂ | PAT တင်ပြခြင်း(၂/၂၀၁၇) | ၉-၁-၂၀၁၇ | | |
| ၃ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၁၁-၁-၂၀၁၇ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၁-၁-၂၀၁၇ | | |
| ၅ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၈-၁-၂၀၁၇ | | |
| ၆ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၂၂-၂-၂၀၁၇ | ၂၇-၂-၂၀၁၇ | |
| | (ခ) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၂၃-၂-၂၀၁၇ | ၃-၄-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၃-၂-၂၀၁၇ | ၉-၃-၂၀၁၇ | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် အစုံ(၁၀) ပေးပို့ခြင်း | - | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ပြုစုခြင်း | - | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | ၁၂၄ ရက် | | |

ကုမ္ပဏီအမည် - Asia Hline Kyaw Family Co.,Ltd.
အဖွဲ့အစည်းပုံသဏ္ဌာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း
တည်နေရာ - မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ ၄ ရပ်ကွက်၊ ဦးပိုင်အမှတ်-(D-2A)၊ အကွက်အမှတ်(D)
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၂၄၈၃.၀၀ သန်း (အမေရိကန်ဒေါ်လာကျပ် ၀.၃၅၉ သန်းအပါအဝင်)
လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ်
အရင်းကြေကာလ - ၅ နှစ်နှင့် ၈ လ
IRR - ၁၈.၂၀ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၈.၈၈ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၇၅၉.၄၃ သန်း | ကျပ် ၁၀၀၂.၈၅ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၈၃.၉၆ သန်း |
| ၆ | CSR (၂ %) | | ကျပ် ၆၀.၇၇ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၁ ဦး<br>ပြည်တွင်းလုပ်သား ( ၇၁ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၇၉၀.၄၇ သန်း | ကျပ် ၁၂၄၈.၂၅ သန်း |
| | Cost & Benefit | ၁ : ၂ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Asia Hline Kyaw Family Co.,Ltd. မှ ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Asia Hline Kyaw Family Co.,Ltd. |
| | ကမကထပြုသူ | - ဦးကျော်နိုင်(ခ) ဦးစိုင်းအိုက်ပေါင်း (မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ င ရပ်ကွက်၊ ဦးပိုင် အမှတ်-(D-2A)၊ အကွက်အမှတ်(D) |
| ၃။ | မြေအကျယ်အဝန်း | - မြေဧရိယာ( ၂.၈၀၃) ဧက (၁၁,၃၄၃.၃၄၈ စတုရန်းမီတာ) |
| | မြေပိုင်ရှင် | - ဦးကျော်နိုင်(ခ) ဦးစိုင်းအိုက်ပေါင်း နှင့် ဒေါ်ဟော်ဇီမေ |
| ၄။ | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | ကျပ် ၂၄၈၃.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၃၅၉ သန်း အပါအဝင်) |
| | | **ကျပ်(သန်း)** |
| | ငွေသား | ၃၈၆.၂၈၀ |
| | စက်ပစ္စည်း | ၅၇၇.၆၇၅ (အမေရိကန်ဒေါ်လာ ၀.၃၅၉ သန်း အပါအဝင်) |
| | အဆောက်အဦ | ၅၁၅.၆၀၀ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၃.၄၄၅ |
| | မြေ | ၁၀၀၀.၀၀၀ |
| | **စုစုပေါင်း** | **၂၄၈၃.၀၀၀** |
| ၆။ | ဝန်ထမ်းအင်အား | **- ၇၁ ဦး** |
| | ပြည်တွင်း | - ၇၁ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၁၀,၀၀၀ ကျပ်နှင့်အမြင့်ဆုံးလစာ ၅၀၀,၀၀၀ ကျပ်) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပ ၇၄ %<br>- ပြည်တွင်း ၂၆ % |

| | | |
|---|---|---|
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်(၆)နှစ်မြောက် | (က) First Grade (ပြည်ပ)<br>စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (M.T) / ရောင်းဈေးနှုန်း ( US$/ M.T)<br>၁။ Black Matpe ၆၃၀၀ ၁၅၇၀<br>၂။ Green Mung Bean ၆၃၀၀ ၈၆၅<br>၃။ Toor Whole ၄၂၀၀ ၁၂၉၀<br>၄။ Chick Pea ၄၂၀၀ ၈၅၀<br><br>(ခ) Second Grade (ပြည်တွင်း)<br>စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (M.T) / ရောင်းဈေးနှုန်း ( ကျပ်/ M.T)<br>၁။ Black Matpe ၉၀၀ ၁,၈၈၄,၁၇၉<br>၂။ Green Mung Bean ၉၀၀ ၈၇၅,၆၈၁<br>၃။ Toor Whole ၆၀၀ ၁,၃၆၆,၃၉၈<br>၄။ Chick Pea ၆၀၀ ၈၅၇,၆၈၁<br><br>(ဂ) By Product (ပြည်တွင်း)<br>စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (M.T) / ရောင်းဈေးနှုန်း ( ကျပ်/ M.T)<br>၁။ Black Matpe ၁၃၅၀ ၁၆၆,၄၀၀<br>၂။ Green Mung Bean ၁၃၅၀ ၁၆၆,၄၀၀<br>၃။ Toor Whole ၉၀၀ ၁၆၆,၄၀၀<br>၄။ Chick Pea ၉၀၀ ၁၆၆,၄၀၀ |
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ (၆နှစ်မြောက်) | - ကျပ် ၃၆,၁၇၇.၉၇ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - ကျပ် ၃၅,၅၇၆.၂၃ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (၆နှစ်မြောက်) | - ကျပ် ၆၀၁.၇၄ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် ဝင်ငွေခွန် | - ကျပ် ၂၀၀.၅၈ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၈ လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၈.၂၀ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၆၀၀,၀၀၀ kWh |

| | | |
|---|---|---|
| ၁၁။ | အခြားတင်ပြချက် | - Asia Hline Kyaw Family Co.,Ltd.၏ ကုမ္ပဏီ မှတ်ပုံတင်၊ MOA, AOA (မိတ္တူ)များ တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- စက်ရုံ၏ တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြ ထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ Waste Water Treatment Plant ၏ အစီရင်ခံစာ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |
| ၁၂။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံရှိ ရှေ့ဝတီဘဏ်တွင် Asia Hline Kyaw Family Co.,Ltd. နှင့် ဒေါ်နှင်းချွေး အမည်ဖြင့် (၂၆-၁၂-၂၀၁၆) ရက်နေ့ ရက်စွဲဖြင့် ကျပ် ၅၀၀,၀၀၀,၀၀၀.၀၀ ရှိကြောင်းနှင့် မြဝတီဘဏ်တွင် ဦးသန်းဌေးအောင်နှင့် ဦးသန်းအောင် အမည်ဖြင့် (၂၉-၁၁-၂၀၁၆) ရက်နေ့ ရက်စွဲဖြင့် ကျပ် ၃၀၀,၄၁၃,၃၁၃.၀၄ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြ ထားပါသည်။<br>- Exchange Rate အနေဖြင့် 1US$ = 1300 MMK ဖြင့် ဖော်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးကျော်နိုင်(ခ) ဦးစိုင်းအိုက်ပေါင်း နှင့် ဒေါ်ယော်ဇီမေ အမည်ဖြင့် ရရှိထားသော မြေငှားစာချုပ်ကိုလည်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက - ၂/ မ- ၂၄၈/ ၂၀၁၇ ( ၃၇၉ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မေလ ၁၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Asia Hline Kyaw Family Co.,Ltd.မှ ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ Asia Hline Kyaw Family Co.,Ltd.မှ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ ၈ ရက်ကွက်၊ ဦးပိုင်အမှတ်(D-2A)၊ အကွက်အမှတ် (D)အတွင်းရှိ မြေဧရိယာ(၂.၈၀၃)ဧက (၁၁,၃၄၃.၃၄၈) စတုရန်းမီတာတွင် ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ (၂.၈၀၃)ဧက (၁၁,၃၄၃.၃၄၈ စတုရန်းမီတာ) ဖြစ်ပြီး ၎င်းမြေကို မန်နေဂျင်းဒါရိုက်တာ ဦးကျော်နိုင်(ခ) ဦးစိုင်းအိုက်ပေါင်း နှင့် ဒါရိုက်တာဒေါ်ယော်ဇီမေ တို့က ပိုင်ဆိုင်သည့် အထောက်အထား ကိုလည်း တင်ပြထားပါသည်။

၃။ တည်ဆောက်ရေးကာလ ၁၈ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၀.၃၅၉ သန်းအပါအဝင်ကျပ် ၂၄၈၃.၀၀၀ သန်းဖြစ်ပြီး အောက်ပါအတိုင်းထည့်ဝင်ထားပါ သည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၃၈၆.၂၈၀ |
| (ခ) | စက်ပစ္စည်း | ၅၇၇.၆၇၅ (အမေရိကန်ဒေါ်လာ ၀.၃၅၉ သန်း အပါအဝင်) |
| (ဂ) | အဆောက်အဦ | ၅၁၅.၆၀၀ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၃.၄၄၅ |
| (င) | မြေ | ၁၀၀၀.၀၀၀ |
| | **စုစုပေါင်း** | ၂၄၈၃.၀၀၀ |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁၃၀၀ ဖြင့် ဖော်ပြ ထားပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန် စုစုပေါင်းဝန်ထမ်းဦးရေ (၇၁) ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းဦးရေ (၅) ဦး ခန့်ထားမည်ဖြစ်ပါသည်။( ပြည်တွင်း ဝန်ထမ်းများ သင်တန်းပေးရန်အတွက် ယာယီခန့်ထားခြင်း ဖြစ်ပါသည်။)

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပတွင် ၇၄% နှင့် ပြည်တွင်းတွင် ၂၆% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်ပထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) First Grade (ပြည်ပ)

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (M.T) | ရောင်းဈေးနှုန်း ( US$/ M.T) |
|---|---|---|---|
| ၁။ | Black Matpe | ၆၃၀၀ | ၁၅၇၀ |
| ၂။ | Green Mung Bean | ၆၃၀၀ | ၈၆၅ |
| ၃။ | Toor Whole | ၄၂၀၀ | ၁၂၉၀ |
| ၄။ | Chick Pea | ၄၂၀၀ | ၈၅၀ |

(ခ) Second Grade (ပြည်တွင်း)

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (M.T) | ရောင်းဈေးနှုန်း ( ကျပ်/ M.T) |
|---|---|---|---|
| ၁။ | Black Matpe | ၉၀၀ | ၁,၈၈၄,၁၇၉ |
| ၂။ | Green Mung Bean | ၉၀၀ | ၈၇၅,၆၈၁ |
| ၃။ | Toor Whole | ၆၀၀ | ၁,၃၆၆,၃၉၈ |
| ၄။ | Chick Pea | ၆၀၀ | ၈၅၇,၆၈၁ |

(ဂ) By Product (ပြည်တွင်း)

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (M.T) | ရောင်းဈေးနှုန်း ( ကျပ်/ M.T) |
|---|---|---|---|
| ၁။ | Black Matpe | ၁၃၅၀ | ၁၆၆,၄၀၀ |
| ၂။ | Green Mung Bean | ၁၃၅၀ | ၁၆၆,၄၀၀ |
| ၃။ | Toor Whole | ၉၀၀ | ၁၆၆,၄၀၀ |
| ၄။ | Chick Pea | ၉၀၀ | ၁၆၆,၄၀၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေ | ကျပ် ၃၆,၁၇၇.၉၇ | သန်း |
| (ခ) | အသုံးစရိတ် | ကျပ် ၃၅,၅၇၆.၂၃ | သန်း |
| (ဂ) | အသားတင်အမြတ် | ကျပ် ၆၀၁.၇၄ | သန်း |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ အနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၂၀၀.၅၈ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) မှာ ၁၈.၂၀% ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့** မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှအဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းတို့အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ် များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများ ကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination – IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန် ၊ အထက်ပါလေ့လာ ဆန်းစစ် မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည် တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက် အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံ

စာမျိုးရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာ ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်။ **(နောက်ဆက်တွဲ-ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ ၏(၁%) သုံးစွဲရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက် ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

၁၀။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ရေဝတီဘဏ်တွင် Asia Hline Kyaw Family Co.,Ltd. နှင့် ဒေါ်နှင်းချွေး အမည်ဖြင့် (၂၆-၁၂-၂၀၁၆) ရက်နေ့ ရက်စွဲဖြင့် ကျပ် ၅၀၀,၀၀၀,၀၀၀.၀၀ ရှိကြောင်းနှင့် မြဝတီဘဏ်တွင် ဦးသန်းဧွေအောင်နှင့် ဦးသန်းအောင် အမည်ဖြင့် (၂၉-၁၁-၂၀၁၆) ရက်နေ့ ရက်စွဲဖြင့် ကျပ် ၃၀၀,၄၁၃,၃၁၃.၀၄ ရှိကြောင်း နှင့် MOA AOA မူကြမ်း၊ ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများ၊ ပုံစံ-၆၊ ပုံစံ-၂၆ နှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများအား တင်ပြထားပါသည်။

၁၁။ Asia Hline Kyaw Family Co.,Ltd. ၏ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် လုပ်ငန်းသဘောသဘာဝ ရှင်းလင်းချက်၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဓ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြု နိုင်မည် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ (က) မြေပိုင်ရှင် မန်နေဂျင်းဒါရိုက်တာ ဦးကျော်နိုင်(ခ) ဦးစိုင်းအိုက်ပေါင်း နှင့် ဒါရိုက်တာ ဒေါ်ယော်ဇီမေ တို့က မြေပိုင်ဆိုင်သည့် အထောက်အထားကိုလည်း တင်ပြထားပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်းစိစစ်ပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းများသည် ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Asia Hline Kyaw Family Co.,Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ ၄ ရပ်ကွက်၊ ဦးပိုင်အမှတ်(D-2A)၊ အကွက်အမှတ် (D) အတွင်းရှိ မြေဧရိယာ(၂.၈၀၃)ဧက (၁၁,၃၄၃.၃၄၈) စတုရန်းမီတာတွင် ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Asia Hline Kyaw Family Co.,Ltd. | (၁) ဦးကျော်နိုင်(ခ) ဦးစိုင်းအိုက်ပေါင်း မန်နေးဂျင်းဒါရိုက်တာ ၁၃/နမတ(နိုင်) ၀၂၂၁၅၇ | အမှတ်-၂၄-အေ၊ (၃၄) လမ်း၊ ၈၇နှင့် ၈၈ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၂) ဒေါ်နန်းလှိုင်မွေး ဒါရိုက်တာ ၁၃/နမတ(နိုင်) ၀၂၂၁၅၆ | အမှတ်-(ဟ-၂၈၁/ဘီ)၊ ဟိုမွန်ရပ်၊ မူဆယ်မြို့နယ်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) |
| | | (၃) ဒေါ်နှင်းချွေး ဒါရိုက်တာ ၁၃/နမတ(နိုင်) ၀၂၅၃၄၂ | အမှတ်-(ဟ-၂၇၀/ဘီ)၊ ဟိုမွန်ရပ်၊ မူဆယ်မြို့နယ်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) |
| | | (၄) ဦးရန်စင်ဝမ် ဒါရိုက်တာ ၁၃/နမတ(နိုင်) ၀၂၅၀၁၈ | အမှတ်-(ဟ-၂၈၁/ဘီ)၊ ဟိုမွန်ရပ်၊ မူဆယ်မြို့နယ်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း) |
| | | (၅) ဦးသန်းအောင် ဒါရိုက်တာ ၁၂/ဒဂန(နိုင်) ၀၀၈၄၃၈ | အမှတ်-(၁၃/၁၅)၊ လမ်း(၂၀)၊ (၃) ရပ်ကွက်၊ လသာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၆) ဒေါ်ဟော်ဇီမေ ဒါရိုက်တာ ၆/ကခန(နိုင်) ၀၁၃၁၆၂ | အမှတ်-၂၄-အေ၊ (၃၄) လမ်း၊ ၈၇နှင့် ၈၈ လမ်းကြား၊ ချမ်းအေးသာစံ မြို့နယ်၊ မန္တလေးမြို့။ |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - (၀၉-၂၅၉၂၈၅၂၈၂) |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၂၅၃-အေ)၊ အခန်းအမှတ်-၃၀၁၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်မြမြအိ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ ( ၁၄၉ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဧပြီ လ ၃ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃ - ၂- ၂၀၁၇ )ရက်စွဲပါစာအမှတ်၊ မရက- ၂ / မ - ၂၅၃ / ၂၀၁၇ ( ၂၁၀)

၁။ Asia Hline Kyaw Family Co.,ltd မှ ပြည်ကြီးတံခွန်မြို့နယ်၊ (င)ရပ်ကွက်၊ အကွက်အမှတ်(D)၊ ဦးပိုင်အမှတ်(D-2A)ရှိ မြေဧရိယာ(၂.၈၀၃)ဧကပေါ်တွင် ပဲမျိုးစုံသန့်စင် ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားအား ရက်သတ္တပတ်တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်တည်နေရာသည် မန္တလေးစက်မှုဇုန် အပိုင်း(၁) နယ်မြေအတွင်းတည်ရှိပြီး လက်ရှိအခြေအနေတွင်လည်း ပဲသန့်စင်စက်၊ ပဲဇကာချစက်များဖြင့် လုပ်ငန်းလည်ပတ် လုပ်ကိုင်ဆောင်ရွက်နေခြင်း၊ ပတ်ဝန်းကျင်တွင်လည်း စက်မှုလုပ်ငန်းများ ဆောင်ရွက်နေကြောင်းတွေ့ရှိရပြီး နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်း(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိပါကြောင်း ၊

( ခ ) ယခု လက်ရှိအခြေအနေတွင် ပဲမျိုးစုံသန့်စင်၊ ဇကာချခြင်းလုပ်ငန်းတွင် လက်ရှိလုပ်သားအင်အား(၄၈)ဦးဖြင့် ဆောင်ရွက်နေခြင်းဖြစ်ပြီး နောင်တွင် ဆောင်ရွက်မည့် ပဲကြိတ်ခွဲခြင်းလုပ်ငန်းအတွက် MIC ခွင့်ပြုမိန့်ရရှိပါက လုပ်သားအင်အား(၇၀)ကျော်အထိ ခန့်ထားဆောင်ရွက်မည်ဖြစ်၍ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်ပါကြောင်း၊

(ဂ) အဆိုပါ ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းတွင် တပ်ဆင်အသုံးပြုမည့်စက်များသည် အိန္ဒိယနိုင်ငံမှ မှာယူတင်သွင်း၍ ခတ်မီ နည်းစနစ်များဖြစ်သည့် Automatic Machines များဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအဆင့်တိုင်း၌ ထွက်ရှိလာမည့် အမှုန်အမွှားများနှင့် လေလွင့်ပဲခွံခြမ်းများအား ပြင်ပလေထုထဲသို့ မရောက်ရှိစေဘဲ Bag Filter, Cyclone Absorber များဖြင့် စုပ်ယူ၍ စုဆောင်းရရှိလာမည့် ဘေးထွက်ပစ္စည်းများအား တိရစ္ဆာန်အစားအစာအဖြစ် ထုတ်လုပ်နိုင်ရန် အစာစပ်စက်ရုံများသို့ ပြန်လည်ရောင်းချသွားမည်ဖြစ်၍ ပတ်ဝန်းကျင်ညစ်ညမ်းစေမည့် ဘေးထွက်ဆိုးကျိုးများ မရှိပါသောကြောင့် ပတ်ဝန်းကျင်နေထိုင်သူများအတွက် ဘေးအန္တရာယ် မရှိနိုင်ခြင်းကြောင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် စက်မှုဇုန်မြေဧရိယာအတွင်း၌ တည်ရှိနေခြင်း၊ ဘေးပတ်ဝန်းကျင်များသည်လည်း စက်မှုလုပ်ငန်းများ ထူထောင်ဆောင်ရွက်နေသည့် နေရာဖြစ်ပါသောကြောင့် လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Asia Hline Kyaw Family Co.,ltd မှ ပြည်ကြီးတံခွန်မြို့နယ်၊ (င) ရပ်ကွက်၊ အကွက်အမှတ်(D)၊ ဦးပိုင်အမှတ်(D-2A)ရှိ မြေဧရိယာ(၂.၈၀၃)ဧကပေါ်တွင် ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် ( ၂၃-၃-၂၀၁၇ ) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၅/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ်-၁၆ အရ ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၉၀/၁၇ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Asia Hline Kyaw Family Co., Ltd. မှ ပဲမျိုးစုံ သန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၂-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၂/ မ- ၂၅၃/ ၂၀၁၇(၂၀၈-က)

၁။ Asia Hline Kyaw Family Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (င) ရပ်ကွက်၊ အကွက်အမှတ်- (D)၊ ဦးပိုင်အမှတ်- (D-2A) ရှိ မြေဧရိယာ ၂.၈၀၃ ဧက (၁၁၃၄၃.၃၃၉ စတုရန်းမီတာ) ပေါ်တွင် ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၂၀) နှစ်ဖြစ်ပြီး၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၁၈) လဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် (၁၀၀x၉၀) ပေအကျယ်စက်ရုံအဆောက်အဦ (၁) လုံး၊ (၂၈x ၃၅) ပေအကျယ် ရုံးခန်းအဆောက်အဦ (၁) လုံး၊ (၁၇၂x၉၀) ပေအကျယ် သိုလှောင်ရုံ (၁) လုံး၊ (၈၁x၃၆၀) ပေအကျယ် သိုလှောင်ရုံအဆောက်အဦ (၁) လုံးနှင့် (၇၈x၈၀) ပေအကျယ် သိုလှောင်ရုံအဆောက်အဦ (၁) လုံး၊ စုစုပေါင်းအဆောက်အဦ (၅) လုံးတည်ဆောက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပဲတီစိမ်း၊ မတ်ပဲ၊ ကုလားပဲနှင့် ပဲစဉ်းငုံ ပဲအမျိုးအစား (၄) မျိုးကို ပထမနှစ်တွင် (၁) ရက်လျှင် (၆၉) တန်ကျော်မှ ရင်းနှီးမြှုပ်နှံမှုကာလ (၂၀) နှစ် အတွင်း (၁) ရက်လျှင် (၈၃) တန်ကျော်အထိ တိုးမြှင့်သန့်စင်ကြိတ်ခွဲ ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် အလုပ်ရုံအတွင်း အမှိုက်စွန့်ပစ်ရန် စီစဉ်ထားရှိခြင်း၊

လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ပတ်ဝန်းကျင်ဆူညံမှုနှင့် ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး၊ ရေစီးရေလာပိတ်ဆို့မှု မဖြစ်စေရေး၊ လမ်းပိတ်ဆို့မှုနှင့် ညစ်ညမ်းမှုမဖြစ်စေရေးကို အစွမ်းကုန်ကြိုးစား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Asia Hline Kyaw Family Co., Ltd. မှ ပဲမျိုးစုံ သန့်စင်ကြိတ်ခွဲခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ဆူညံသံများ၊ ဖုန်၊ သဲ၊ အမှိုက်၊ အမှုန်အမွှားများ၊ ပဲအခွန်၊ အမှုန်၊ အမှိုက်များထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊

(ခ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ကုန်ပစ္စည်းများသိုလှောင်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် ဖွင့်လှစ်မည့်ရုံးခန်းရှိ ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊ စက်ယန္တရားများ အသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုတို့အားညစ်ညမ်းမှုများနှင့် အသံဆူညံမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Asia Hline Kyaw Family Co., Ltd. မှ ပဲမျိုးစုံ သန့်စင်ကြိတ်ခွဲခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်း ဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၂၇၈)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၉ ရက်

သို့

√ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၂.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ မ-၂၅၃ / ၂၀၁၇ (၂၁၁)

၁။ Asia Hline Kyaw Family Co.,Ltd မှ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (c) ရပ်ကွက်၊ အကွက်အမှတ်(D)၊ ဦးပိုင်အမှတ်(D-2A)တွင် ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Asia Hline Kyaw Family Co.,Ltd မှ ပဲမျိုးစုံသန့်စင်ကြိတ်ခွဲခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်

ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

0/2/17

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- ရုံးလက်ခံ